ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၂၂၁/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်မေလင်းပိုင်

(ခ) **အဘ အမည်** ဦးထွန်းစိန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁/မကတ(နိုင်)၀၇၁၅၉၆

(ဃ) **နေရပ်လိပ်စာ** အမှတ်(၄၇၄)၊ အင်းတော်လမ်း၊ ၆၄ရပ်ကွက်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် - ၆၄ ၊ မြေကွက်အမှတ် - ၁၀၂၊ ၁၀၃၊ ၁၀၄ ရှိ မြေဧရိယာ ၀.၁၇၈ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၁၇ သန်း (US$ ၀.၀၆၁ သန်း အပါအဝင် ကျပ်တစ်ရာတစ်ဆယ့်ခုနှစ်သန်းတိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၆ လ

11.11.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၁ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited)သည် မြေကွက်အမှတ်-၁၀၂၊ ၁၀၃၊ ၁၀၄၊ မြေတိုင်းရပ်ကွက်အမှတ်-၆၄၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၁၇၈ ဧက (၇၂၀.၃၄ စတုရန်းမီတာ)တွင် CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၁၆) အစည်းအဝေး၌ တင်ပြခဲ့ရာခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited)အား CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၂၀/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင်နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေနှင့် အဆောက်အဦ အငှားချထားသူ ဦးအင်စေပေါ့ခ်(ခ)ဦးမောင်စိန်၊ လင်(မ်)တိုက်ဟောင်(ခ)တိတ်ဟောင်၊ လူငန်ဟိန်(ခ)မခင်ဝင်း တို့နှင့် အငှားချထားခြင်းခံရသူ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ် ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

၈။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၉။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနတို့နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၀။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး

လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊မီးသတ်ဆေးဘူးများကဲ့သို့မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၁။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၃။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများ မှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်

လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

11.11.16

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၃ /မ-၁၃၈၂/၂၀၁၆ ( ၁၄၅၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက် (United Precise Company Limited)

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၃-၈-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၂-၉-၂၀၁၆ | ၁၁-၁၀-၂၀၁၆ | |
| | ( ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၈-၉-၂၀၁၆ | ၁၅-၉-၂၀၁၆ | |
| | ( ဂ) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၁၂-၉-၂၀၁၆ | ၂၀-၉-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၂/၂၀၁၆) သို့ တင်ပြခြင်း | ၂၉-၈-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၉-၈-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်၍ အဆိုပြုလွှာ ပြန်လည် တင်ပြခြင်း | ၃၀-၉-၂၀၁၆ | | |
| ၆ | အဆိုပြုလွှာ (၇) စုံပေးပို့ခြင်း | ၁၈-၁၀-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၅၆ ရက်** | | |

## ကန့်သတ်

အကြောင်းအရာ။ **ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) မှ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | | | | |
|---|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited)<br>- ဒေါ်မေလင်းပိုင်(အဘ-ဦးထွန်းစိန်) | | | |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company) ဖြစ်ပါသည်။<br>- ဒေါ်မေလင်းပိုင် ၅၀%<br>- ဦးမင်းထက်ပိုင် ၅၀% | | | |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် Post Bar, Signboard Frame များပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း | | | |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၁၀၂၊ ၁၀၃၊ ၁၀၄)၊ မြေတိုင်း ရပ်ကွက် အမှတ်(၆၄)၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | | | |
| | မြေပိုင်ရှင် | - ဦးအင်စေပေါ်ခ်(ခ)ဦးမောင်စိန် နှင့် လင်(မ်)တိုတ်ဟောင် (ခ) တိတ်ဟောင်<br>- လူငန်ဟိန်(ခ)မခင်ဝင်း | | | |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၀.၁၇၈ ဧက (၇၂၀.၃၄ စတုရန်းမီတာ) | | | |
| | အဆောက်အဦအကျယ်အဝန်း | - ၆၀ ပေ x ၁၂၀ ပေ (၂ထပ် စက်ရုံ အဆောက်အဦ ၁ လုံး) | | | |
| | မြေငှားရမ်းကာလ | - ကနဦး ၁၀ နှစ် ( သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) | | | |
| ၃။ | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ကျပ် ၉၆ သိန်း<br>- မြေဧရိယာ ၀.၁၇၈ ဧက (၇၂၀.၃၄ စတုရန်းမီတာ) အတွက် တစ်နှစ်တစ်စတုရန်းမီတာလျှင် ၁၃,၃၂၇ ကျပ်ဖြင့်တွက်ချက်ဖော်ပြထားပါသည်။ | | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ၂၀ နှစ် | | | |
| | တည်ဆောက်မှုကာလ | - ၆ လ | | | |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၁၁၇.၀၀ သိန်း(US$ ၀.၀၆၁ သိန်း အပါအဝင်) | | | |
| | | | **ကျပ် (သိန်း)** | **US$ (သိန်း)** | **စုစုပေါင်း (ကျပ်/သိန်း)** |
| | ငွေသား | | ၃၂.၆၈ | - | ၃၂.၆၈ |
| | စက်ပစ္စည်းတန်ဖိုး (ပြည်တွင်း/ ပြည်ပဝယ်) | | ၈.၆၉ | ၀.၀၆၁ | ၇၉.၃၅ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ (ပြည်တွင်းဝယ်) | | ၄.၉၇ | - | ၄.၉၇ |
| | **စုစုပေါင်း** | | **၄၆.၃၄** | **၀.၀၆၁** | **၁၁၇.၀၀** |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်)<br>ပြည်တွင်း | - **၄၁ ဦး**<br>- ၄၁ ဦး(ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၁၀,၀၀၀နှင့် အမြင့်ဆုံးလစာ ကျပ် ၆၀၀,၀၀၀) | | | |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပပို့မည်ဖြစ်ပါသည်။ | | | |

## ကန့်သတ်

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၂၂၂.၈၇ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် (ဆဋ္ဌမနှစ်) | - ကျပ် ၂၁၅.၄၁ သန်း |
| | ကုမ္ပဏီ၏ဘသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၇.၄၆ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၂.၄၈ သန်း<br>(အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၁၅၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။) |
| | အရင်းကြေကာလ | - ၃နှစ် ၅လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၉.၉၂ % |
| ၁၀။ | နှစ်စဥ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၂၄၀ KWH |
| ၁၁။ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်းထား (၆နှစ်မြောက်) | - |
| | | ထုတ်လုပ်မှု အရေအတွက် (Pcs) / CMP လက်ခနှုန်း (US $/ Pcs) |
| | Post Bar | ၆၀,၀၀၀ / ၁.၁၅ |
| | Signboard Frame Size A | ၃၆,၀၀၀ / ၁.၆၀ |
| | Signboard Frame Size B | ၄၈,၀၀၀ / ၁.၄၀ |
| ၁၂။ | အခြား | - ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက်(United Precise Company Limited)၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်- ၃၀၃၃/၂၀၁၅-၂၀၁၆ (ရက) (၅-၁-၂၀၁၆)ဖြင့် မှတ်ပုံတင်ထားကြောင်းနှင့် ဒါရိုက်တာစာရင်းကိုတင်ပြထားပါသည်။<br>- မြေပိုင်ရှင် အင်စေပေါ့ခ်(ခ)မောင်စိန်၊ လင်(မ်)တိုတ်ဟောင် (ခ) တိတ်ဟောင်၊ လူငန်ဟိန်(ခ)မခင်ဝင်းနှင့် ယူနိုက်တက် ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited) တို့ချုပ်ဆိုမည့်မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)နှင့် နိုင်ငံသားစိစစ်ရေးကဒ်(မိတ္တူ)များအား တင်ပြထားပါသည်။<br>- Mirae Safety Industrial Co., Ltd. နှင့် ယူနိုက်တက် ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) တို့ ၁၈-၇-၂၀၁၆ ရက်နေ့တွင် ချုပ်ဆိုထားသည့် CMP Contract အား တင်ပြထားပါသည်။<br>- ကျပ်ငွေ အထောက်အထားအဖြစ် ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) အမည်ဖြင့် ၅-၈-၂၀၁၆ ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်ရှိ KBZ Bank (International Banking Division Branch) တွင် US$ ၃၂, ၈၃၈.၂၆ ရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် ၁၁-၈-၂၀၁၆ ရက်နေ့တွင် Myanmar Investment and Commercial Bank တွင် US$ ၆၁၈၁.၀၁ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မှ ပါဝင်ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုထားပါသည်။<br>- စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် စီစဉ်ဆောင်ရွက်ထားရှိမှုများ၊ အလုပ်သမားများ၏ လစာဝင်ငွေပေါ်မှာ ပေးဆောင်ရမည့် ဝင်ငွေခွန်နှင့် ပတ်သက်၍ ဝန်ခံချက်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် စီမံဆောင်ရွက်ထားရှိမှု အစီအစဉ်များ နှင့်လူမှုဘဝသာယာဝပြောမှု အစီအစဉ်အဖြစ် အသားတင်အမြတ်မှ ၂% သုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် CMPလုပ်ငန်းများ ကြီးကြပ်ရေးကော်မတီတို့မှသဘောထားမှတ်ချက်များရရှိပြီးဖြစ်ပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ရေးအစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများ ရေးဆွဲတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက်(United Precise Company Limited) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | လီမိတက်ကုမ္ပဏီ (Private Company) |
| လုပ်ငန်းအမျိုးအစား | - | CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ် (၁၀၂၊၁၀၃၊၁၀၄)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၁၇.၀၀ သန်း(အမေရိကန်ဒေါ်လာ ၀.၀၆၁ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ၁၀၀ % ပြည်ပသို့တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - | ၂၀ နှစ် |
| အရင်းကြေကာလ | - | ၃ နှစ် ၅ လ |
| IRR | - | ၁၉.၉၂% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost<br>(ကျပ်သန်း) | Benefit<br>(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀(တစ်နှစ်) | ၁.၆၈၀ |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃.၅၀၇ | |
| ၄ | ဝင်ငွေခွန် | ၁၃၉.၄၅၉ | ၁၅၆.၉၀၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ၁၅၀.၆၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း လေးဆယ့်ရှစ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁)ဦး |
| ၇ | CSR ၂ % | | ၂၆၁.၆၁၈ |
| ၈ | မြေငှားရမ်းခရငွေ | | ၆၇၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၄၁ ဦး<br>ပြည်တွင်းဝန်ထမ်း(၄၁)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုး တက်မှုကိုအထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၁၄၅.၉၆၆ သန်း | ကျပ် ၁၂၄၃.၄၆၃ သန်း |
| | | ၁ : | ၈ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/မ-၁၃၈၂/၂၀၁၆( ၁၃၇၃ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) မှ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

၁။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ်(၁၀၂၁၀၃၊၁၀၄)ရှိ မြေဧရိယာ ၀.၁၇၈ ဧက (၇၂၀.၃၄ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ် အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မေလင်းပိုင် (အဘ- ဦးထွန်းစိန်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူမြေကွက်အမှတ်(၁၀၂၁၀၃၊၁၀၄)အတွက် မြေပိုင်ရှင် အင်စေပေါ့ခ်(ခ) မောင်စိန်၊ လင်(မ်)တိုတ်ဟောင်(ခ)တိတ်ဟောင်၊ လူငန်ဟိန်(ခ)မခင်ဝင်းနှင့် ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited)တို့ချုပ်ဆိုမည့်မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)များ၊ အဆောက်အဦဓါတ်ပုံ၊ မြေဆိုင်ရာအထောက်အထားများ၊ ထုတ်လုပ်မည့် ပစ္စည်းဓါတ်ပုံများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်-၃၀၃၃/၂၀၁၅-၂၀၁၆(ရက)(၅-၁-၂၀၁၆) ဖြင့်မှတ်ပုံတင်ထားကြောင်း၊ ဒါရိုက်တာစာရင်း၊ ကိုရီးယားနိုင်ငံမှ Mirae Safety Industrial Co.,Ltd. နှင့် ယူနိုက် တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက်(United Precise Company Limited) တို့အကြား ၁၈-၇-၂၀၁၆ ရက်နေ့တွင် ချုပ်ဆိုထားသည့် လုပ်ငန်းဆိုင်ရာ CMP Contract တို့ကို တင်ပြထားပါသည်။

၃။ မြေငှားရမ်းမှုသက်တမ်းမှာ ကနဦး ၁၀ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၀.၁၇၈ ဧက (၇၂၀.၃၄ စတုရန်းမီတာ) အား တစ်နှစ် တစ်စတုရန်းမီတာလျှင် ၁၃,၃၂၇ ကျပ်ဖြင့် ငှားရမ်းမည်ဖြစ်ပြီး၊ တစ်နှစ်လျှင် စုစုပေါင်းငှားရမ်းခမှာ ကျပ် ၉၆ သိန်း ဖြစ်ပါသည်။ ၎င်းမြေပေါ်တွင် (၆၀ပေ x ၁၂၀ပေ) တစ်ထပ် စက်ရုံအဆောက်အဦ တစ်လုံးရှိကြောင်းတင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၂၀နှစ် ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၆လ ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ ကျပ် ၁၁၇.၀၀ သန်း ရှိပြီး ၎င်းတွင် အမေရိကန်ဒေါ်လာ ၀.၀၆၁ သန်း အပါအဝင် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းမှ ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၃၂.၆၈ | - | ၃၂.၆၈ |
| စက်ပစ္စည်းတန်ဖိုး (ပြည်တွင်း/ပြည်ပဝယ်) | ၈.၆၉ | ၀.၀၆၁ | ၇၉.၃၅ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ (ပြည်တွင်းဝယ်) | ၄.၉၇ | - | ၄.၉၇ |
| **စုစုပေါင်း** | **၄၆.၃၄** | **၀.၀၆၁** | **၁၁၇.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှဝန်ထမ်း(၄၁)ဦးခန့် မည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ ထုတ်လုပ်မှုအရေအတွက် နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Pcs) | CMP လက်ခနှုန်း (US$/Pcs) |
|---|---|---|
| Post Bar | ၆၀,၀၀၀ | ၁.၁၅ |
| Signboard Frame Size A | ၃၆,၀၀၀ | ၁.၆၀ |
| Signboard Frame Size B | ၄၈,၀၀၀ | ၁.၄၀ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၂၂.၈၇ |
| (ခ) | အသုံးစရိတ် | ၂၁၅.၄၁ |
| (ဂ) | အသားတင်အမြတ် | ၇.၄၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂.၄၈ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ

၃နှစ် ၅လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၉.၉၂ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁,၁၅၀ ကျပ်နှုန်းဖြင့် တွက်ချက် ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စ နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါး စေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲ မည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)** အားပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက် များနှင့်အညီ အစီရင်ခံစာရေးသား တင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု)လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရန်လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှသဘော ထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။**
**နောက်ဆက်တွဲ (ခ)**

(ဂ) **CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ** အဆိုပြုလုပ်ငန်းအား လက်ခံနိုင် ကြောင်းသဘောထားပြန်ကြားပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ (ဂ)**

၁၁။ ကျပ်ငွေအထောက်အထားအဖြစ် ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) အမည်ဖြင့် ၁၅-၈-၂၀၁၆ ရက်နေ့တွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်ရှိ KBZ Bank (International Banking Division Branch) တွင် US$ ၃၂,၈၃၈.၂၆ ရှိကြောင်း နှင့် နိုင်ငံခြားငွေအထောက်အထားအဖြစ် ၁၁-၈-၂၀၁၆ ရက်နေ့တွင် Myanmar Investment and Commercial Bank တွင် US$ ၆၁၈၁.၀၁ ရှိကြောင်း တင်ပြထား ပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင် မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှု မဖြစ်ပွား စေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက် မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်း၏ လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန် ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား ရက်မှန်ကြေး၊ ရက်ပိုကြေးနှင့်နှစ်သစ်ကူးအပိုဆုကြေးများ ထုတ်ပေးသွားမည်ဖြစ်ကြောင်း၊ သန့်စင် ခန်းများ လုံလောက်စွာထားရှိပေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ကျန်းမာ ရေးဝန်ထမ်းများ ထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရေးနှင့် လိုအပ်သော ဆေးဝါးများ

ထားရှိပေးသွားမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်းအပြင် သန့်ရှင်းရေးအား အချိန်ပြည့် ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီးလျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်(Generator-100 KVA) ကို အသုံးပြုမည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၅။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂% ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၉ ရက်နေ့တွင် ကျင်းပသော (၃၂/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ၂၀(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၁၀၂၊၁၀၃၊၁၀၄)ရှိ မြေဧရိယာ ၀.၁၇၈ ဧက (၇၂၀.၃၄ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်...၂၂၄၂
ရက်စွဲ ၁၁.၁၀.၁၆
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာ လ ၁၁ ရက်

သို့

✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

4.16 48
17.10.16

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂. ၉. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၃/ န-၁၃၈၂/၂၀၁၆(၁၂၀၃)

၁။ ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၁၀၂၊ ၁၀၃၊ ၁၀၄)ရှိ မြေဧရိယာ ၀. ၁၂ ဧက (၄၈၅. ၆၂၃၂ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြား ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၆. ၁၀. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဉ္ဇာမြိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး

ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited)

လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/26.,(4)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ**

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆( ၉၄၃၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **United Precise Company Limited မှ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၉-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/မ-၁၃၈၂/၂၀၁၆(၁၂၀၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန် ၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက်အမှတ် (၁၀၂၊၁၀၃၊၁၀၄)၌ မြေနှင့် အဆောက်အဦအားငှားရမ်း၍ မြန်မာနိုင်ငံတွင် United Precise Company Limited တည်ထောင်ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် CMP စနစ်နှင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် ရန်ကုန်တိုင်းဒေသကြီး CMP လုပ်ငန်းများမြေပြင် ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်မို့မို့သွင်၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်း နှင့် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးစိုးမြင့်ကျော် တို့သည် ၁၆-၉-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ United Precise Company Limited ၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုကို စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| အမျိုးအမည် | ပထမနှစ် ထုတ်လုပ်မှု အရေအတွက် | ဒုတိယနှစ် ထုတ်လုပ်မှု အရေအတွက် | တတိယနှစ် ထုတ်လုပ်မှု အရေအတွက် |
|---|---|---|---|
| 1. Post Bar | 52000 pcs | 56000 pcs | 60000 pcs |
| 2. Signboard Frame Size-A | 30000 pcs | 33000 pcs | 36000 pcs |
| 3. Signboard Frame Size-B | 40000 pcs | 44000 pcs | 48000 pcs |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ခုလိုအပ်ချက်နှုန်းထား၊ တားမြစ် သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရ၍ CMP ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါသည်။



MIC

(ခ) CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ

အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် ကိုက်ညီမှုရှိကြောင်းနှင့် ဒုတိယနှစ်မှစတင်၍ လက်ခနှုန်းထား တိုးမြှင့်ရရှိလာသည်ကို တွေ့ရှိရပါသည်-

| အမျိုးအမည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. Post Bar | 12.6 US$/ Dz | မရှိသေးပါ။ |
| 2. Signboard Frame Size-A | 18.0 US$/Dz | မရှိသေးပါ။ |
| 3. Signboard Frame Size-B | 15.6 US$/ Dz | မရှိသေးပါ။ |

(ဂ) နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ (၃)မျိုးဖြစ်ပြီး Supervisors ၄ ဦး၊ Skilled Workers ၂၅ ဦး၊ Quality Control Workers ၃ ဦး၊ Packing ၃ ဦး တို့သာ ခန့်ထားလုပ်ကိုင်စေပါက -

| အမျိုးအမည် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|
| 1. Post Bar | 175 pcs/10 hour | 54250 pcs |
| 2. Signboard Frame Size-A | 100 pcs/10 hour | 31000 pcs |
| 3. Signboard Frame Size-B | 135 pcs/10 hour | 41850 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှင့် နှိုင်းယှဉ်လျှင် ကျွမ်းကျင်လုပ်သားများဖြင့် ထုတ်လုပ်နိုင်သည်ကို တွေ့ရှိရပါသည် -

| အမျိုးအမည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ |
|---|---|---|
| 1. Post Bar | 52000 pcs | 54250 -59250 pcs |
| 2. Signboard Frame Size-A | 30000 pcs | 31000 -36000 pcs |
| 3. Signboard Frame Size-B | 40000 pcs | 41850-46850 pcs |

၃။ သို့ဖြစ်ပါ၍ United Precise Company Limited အား ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် Post Bar, Signboard Frameများ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

(signature) ၁၀/၉/၂၀၁၆

ဦးဌာနမှူး(ကိုယ်စား)

(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

United Precise Company Limited

ရုံးလက်ခံ

မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၂၂၄ / ၁၆ )
ရက်စွဲ၊ ၂ဝ၁၆ ခုနှစ် စက်တင်ဘာလ ၁၇ ရက်

M-1491
1519

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **United Precise Company Limited မှ CMP စနစ်ဖြင့် Post Bar, Signboard Fram များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိုစွနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၉-၂ဝ၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃ / မ- ၁၅၃ / ၂ဝ၁၆(၁၂ဝ၁)

၁။ United Precise Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၁ဝ၂၊ ၁ဝ၃၊ ၁ဝ၄)ရှိ မြေဧရိယာ ၀.၁၂ဧက( ၄၈၅.၆၂၃၂စတုရန်းမီတာ )ပေါ်ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် Post Bar, Signboard Fram များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိုစွနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၂ဝ)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၆)လဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကာကွယ်ရေးအစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR)လုပ်ငန်းများတွင်ထည့်ဝင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ အလုပ်ရုံအတွင်း စနစ်တကျအမှိုက်စွန့်ပစ်နိုင်ရန် စီစဉ်ထားရှိခြင်း၊ ရေမြောင်းများအားရေစီးရေလာ ကောင်းမွန်စေရန် ဆောင်ရွက်ထားခြင်း၊ အလုပ်ရုံဝင်းအတွင်း လေဝင်လေထွက် ကောင်း

မွန်အောင်ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ United Precise Company Limited မှ Post Bar, Signboard Fram များထုတ်လုပ်ရာတွင် အသုံးပြုမည့် သံပိုက်လုံးများမှ ထွက်ရှိလာမည့်ဖြတ်စများ၊ အမှုန်အမွှားများကို စနစ်တကျစွန့်ပစ်ခြင်းမပြုပါက မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊ ဖြတ်တောက်ခြင်း၊ ကျောက်စက်တိုက်ခြင်း၊ ဂဟေဆော်ခြင်းလုပ်ငန်းအဆင့်များမှထွက်ရှိလာမည့် ညှော်နံ့များ၊ အခိုးအငွေ့အမှုန်အမွှားများ၊ ဆူညံသံများကြောင့် စက်ရုံဝန်ထမ်းများ၏ ကျန်းမာရေးကို ထိခိုက်စေသည်သာမက ပတ်ဝန်းကျင်ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း၊ လျှပ်စစ်ဘေးအန္တရာယ်များဖြစ်ပေါ်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ United Precise Company Limited မှ CMP စနစ်ဖြင့် Post Bar, Signboard Fram များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( **Environmental Management Plan– EMP** ) အား ပတ်ဝန်းကျင်

ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

15

# UNITED PRECISE CO., LTD.
# ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက်

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

## CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အဆိုပြုလွှာ

အမှတ် (၁၀၂+၁၀၃+၁၀၄)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ ဒဂုံတောင်စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

United Precise Co., Ltd
No. 474, Ein Taw Street, 64-Ward, Dagon (South)Township, Yangon, Myanmar
Tel : 09 97167 8408 , 09 400001683

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်အောက်တိုဘာလ ( ၁၄ )ရက်။

အကြောင်းအရာ။ ။ CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ် ခြင်း နှင့်စပ်လျဉ်း၍အဆိုပြုလွှာပေးပို့ခြင်း။

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၉-၂၀၁၆) ရက်စွဲပါစာအမှတ် မရက- ၃/မ-၁၃၈၂/၂၀၁၆(၁၁၆၀)

(၂) ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၉-၂၀၁၆) ရက်စွဲပါစာအမှတ် မရက- ၃/မ-၁၃၈၂/၂၀၁၆(၁၁၆၁)

ကျွန်မတို့၏ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက် **(United Precise Co., Ltd.)** သည် ရန်ကုန်တိုင်းဒေသ ကြီး၊ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ဒဂုံတောင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ် (၁၀၂+၁၀၃+၁၀၄) ၏မြေ (၀. ၁၇၈)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိ (၆၀ပေ x ၁၂၀ပေ) စက်ရုံ အားငှားရမ်း၍ **CMP** စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံ အရွယ်အစားမျိုးစုံထုတ်လုပ် ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်။

အဆိုပြုချက်အားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၉-၈-၂၀၁၆ ရက်နေ့တွင်ကျင်းပပြုလုပ်သည့် (၃၂/၂၀၁၆) အစည်းအဝေးသို့တင်ပြခဲ့ပြီးကော်မရှင်မှရည်ညွှန်းချက်ပါ စာ များဖြင့်အဆိုပြုချက်အားပြင်ဆင်ပေးပို့ရန်ညွှန်ကြားခဲ့ပါသည်၊ ယခုအခါညွှန်ကြားချက်ပါအတိုင်းပြင်ဆင်ပြီးဖြစ် ၍အဆိုပြုချက်အားခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

May Lin Paing
Managing Director
United Precise Co., Ltd.

**United Precise Co., Ltd**

No. 474, Ein Taw Street, 64-Ward, Dagon (South)Township, Yangon, Myanmar

Tel : 09 97167 8408 , 09 400001683

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်ဩဂုတ်လ ( ၂၃ )ရက်။

အကြောင်းအရာ။ ။ CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ် ခြင်း နှင့်စပ်လျဉ်း၍အဆိုပြုလွှာပေးပို့ခြင်း။

ကျွန်မတို့၏ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက် **(United Precise Co., Ltd.)** သည် ရန်ကုန်တိုင်းဒေသ ကြီး၊ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ဒဂုံတောင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ် (၁၀၂+၁၀၃+၁၀၄) ၏မြေ (၀. ၁၇၈)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိ (၆၀ပေ x ၁၂၀ပေ) စက်ရုံ အားငှားရမ်း၍ **CMP** စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံ အရွယ် အစားမျိုးစုံထုတ်လုပ် ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်။

သို့ပါ၍အဆိုပြုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်နှင့်စိစစ်ပေးနိုင်ပါရန်အတွက်အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

May Lin Paing
Managing Director
United Precise Co., Ltd.

UP

# United Precise Co., Ltd

No. 474, Tin Taw Street, 64 Ward, Dagon (South) Township, Yangon, Myanm

Tel [illegible]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ် ဩဂုတ်လ ( ၁၃ )ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ(၂၀)အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များခံစားခွင့်ပြုပါရန်လျှောက်ထားခြင်း။

ကျွန်မတို့၏ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက် (**United Precise Co., Ltd.**) သည် ရန်ကုန်တိုင်းဒေသ ကြီး၊ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ဒဂုံတောင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ် (၁၀၂+၁၀၃+၁၀၄) ၏မြေ (၀. ၁၇၈)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိ (၆၀ပေ x ၁၂၀ပေ)စက်ရုံ အားငှားရမ်း၍ **CMP** စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံ အရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်။

ကျွန်မတို့၏ကုမ္ပဏီသည်အဆိုပြုလုပ်ငန်းအားကျပ်သန်း (၁၁၇. ၀၀) ကိုရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ယင်းတွင်ငွေသားကျပ် (၃၂. ၆၈) သန်း၊ စက်ပစ္စည်းနှင့်လုပ်ငန်းသုံးပစ္စည်းအမေရိကန်ဒေါ်လာ (၆၁၄၄၀) အပါအဝင် ကျပ် (၇၉. ၃၅) သန်း နှင့်ရုံးသုံး ပစ္စည်း ကျပ်(၄. ၉၇)သန်း ကိုရင်းနှီး မြှုပ်နှံမည်ဖြစ်ပါသည်

ကျွန်မတို့လူ့စွမ်းအားအရင်းအမြစ်နှင့် လက်မှုပညာကိုအခြေခံသည့်အဆိုပြုလုပ်ငန်းအား ကျွန်မတို့၏ကုမ္ပဏီသို့လုပ်ငန်းအပ်နှံလိုကြောင်းကမ်းလှမ်းလာပါသည်၊သို့ပါ၍လုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါကနိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေမည်ဖြစ်ပြီး မြန်မာနိုင်ငံသားများ အတွက်အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရေးနှင့်နိုင်ငံတော်၏စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူ ပြုနိုင်မည် ဖြစ်ပါသည်၊

သို့ပါ၍ ကျွန်မတို့၏အဆိုပြုလျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ပုဒ်မ(၂၀)အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအားခံစား ခွင့်ပြုပါရန်လျှောက်ထား အပ်ပါသည်။

# United Precise Co., Ltd

No. 474, Ein Taw Street, 64-Ward, Dagon (South)Township, Yangon, Myanmar

Tel : 09 97167 8408 , 09 400001683

အဆိုပြုလွှာနှင့်အတူအောက်ဖော်ပြပါအထောက်အထားစာရွက်စာတန်းများကိုပူးတွဲတင်ပြအပ် ပါသည်-

(က) ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ၊

(ဃ) မြေပိုင်ဆိုင်မှုအထောက်အထားနှင့်မြေငှားစာချုပ်

(င) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းနှင့်ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ၊

လေးစားစွာဖြင့်

May Lin Paing
Managing Director
United Precise Co., Ltd

# United Precise Co., Ltd

No. 474, Ein Taw Street, 64-Ward, Dagon (South)Township, Yangon, Myanmar

Tel : 09-97467 8408, 09-[illegible]


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ် ဩဂုတ်လ ( ၂၃ )ရက်။

အကြောင်းအရာ။ ။ CMP စနစ်ဖြင့် Post Bar နှင့်Signboard Frame များပုံစံအရွယ်အစားမျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း၏ အဆိုပြုလွှာနှင့်စပ်လျှင်းကတိဝန်ခံချက်များတင်ပြခြင်း။

ကျွန်မတို့၏ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက် **(United Precise Co., Ltd.)** သည် ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ဒဂုံတောင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ် (၁၀၂+၁၀၃+၁၀၄) ၏မြေ (၀. ၁၇၈)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိ (၆၀ပေ x ၁၂၀ပေ) စက်ရုံအားငှားရမ်း၍ **CMP** စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံအရွယ်အစား မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်။

ထိုသို့ဆောင်ရွက်ရာတွင်အောက်ပါအတိုင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်-

- ဤအဆိုပြုလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီးနိုင်ငံခြားသားမည်သူတစ်ဦးတစ်ယောက်မျှပါဝင်ပိုင်ဆိုင်ခြင်းလုံးဝမရှိကြောင်းဝန်ခံကတိပြုပါသည်၊
- ဤအဆိုပြုလုပ်ငန်းသည်လုပ်ငန်းအသစ်ဖြစ်ပြီးမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ရယူထားခြင်းမရှိကြောင်းဝန်ခံကတိပြုပါသည်၊
- မြေယာနှင့်ပတ်သက်သည့်နိုင်ငံတော်အစိုးရမှသတ်မှတ်ပြဌာန်းထားသည့်စည်းကမ်းချက်များ၊ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်၊
- ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ရေထု၊လေထုနှင့်မြေထုတို့ကိုညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက်လိုအပ်သောအစီအမံများမီးဘေးကြိုတင်ကာကွယ်မှုများကိုနိုင်ငံတော်မှသတ်မှတ်ထားသည့်လုပ်ထုံးလုပ်နည်းများ၊စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်၊
- ခွင့်ပြုမိန့်ရရှိလျှင်မြန်မာနိုင်ငံကုန်သည်ကြီးများအသင်းလက်အောက်ရှိသက်ဆိုင်ရာအသင်းအဖွဲ့တွင်အသင်းဝင်အဖြစ်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်းကတိပြုပါသည်၊

# United Precise Co., Ltd

No. 474, Ein Taw Street, 64-Ward, Dagon (South)Township, Yangon, Myanmar

Tel : 09 97167 8408 , 09 400001683


- မိမိတို့ကုမ္ပဏီဝန်ထမ်းများ၏လစာငွေ(၁)နှစ်လျှင်ဝင်ငွေကျပ်(၄,၈၀၀,၀၀၀/-)နှင့်အထက်ရရှိသောဝန်ထမ်းများ၏ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများအတိုင်းကုမ္ပဏီမှပေးဆောင်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်၊
- လုပ်ငန်းအကောင်အထည်ဖေါ်ဆောင်ရွက်ရာတွင်နိုင်ငံတော်၏စက်ရုံအလုပ်ရုံ၊အလုပ်သမားဥပဒေအခြေခံစည်းမျဉ်းစည်းကမ်းများကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်၊
- C.S.R ရံပုံငွေအဖြစ်နှစ်စဉ်ကုမ္ပဏီအသားတင်အမြတ်ငွေ၏(၂)ရာခိုင်နှုန်းအားသီးသန့်ထားရှိမည်ဖြစ်ကြောင်းကတိပြုတင်ပြအပ်ပါသည်၊
- မိမိတိုအလုပ်ရုံမှလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးစနစ်တကျအစီအမံများ ချမှတ်ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်၊
- အလုပ်ရုံတည်ဆောက်ပြီးစီးပြီး စက်နှင့်လုပ်ငန်းသုံးပစ္စည်းများတပ်ဆင်ပြီးပါကစက်မှုဝန်ကြီးဌာန၊စက်မှုနှင့်လျှပ်စစ် စစ်ဆေးမှုခံယူခြင်းနှင့်စက်မှုလုပ်ငန်းလိုင်စင်ရရှိပြီးမှသာစက်ရုံအားလည်ပတ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်းကတိပြုပါသည်

လေးစားစွာဖြင့်

May Lu Paing

Managing Director

United Precise Co., Ltd

United Precise Co., Ltd
No. 474, Ein Taw Street, 64-Ward, Dagon (South)Township, Yangon, Myanmar
Tel : 09 97167 8408 , 09 40000 1683

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်အောက်တိုဘာလ ( ၁၄ )ရက်။

အကြောင်းအရာ။ ။ CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်း၏သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျှင်းသည့် ကတိခံဝန်ချက်တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၁၀-၂၀၁၆) ရက်စွဲပါစာအမှတ် မရက- ၃/မ-၁၃၈၂/၂၀၁၆(၁၃၃၇)။

ကျွန်မတို့၏ယူနိုက်တက်ပရီဆိုက်စ်ကုမ္ပဏီလီမိတက် (United Precise Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ဒဂုံတောင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ် (၁၀၂+၁၀၃+၁၀၄) ၏မြေ (၀. ၁၇၈)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိ (၆၀ပေ x ၁၂၀ပေ) စက်ရုံ အားငှားရမ်း၍ CMP စနစ်ဖြင့် Post Bar နှင့် Signboard Frame များပုံစံ အရွယ်အစားမျိုးစုံထုတ်လုပ် ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်၊ အဆိုပြုချက်နှင့်စပ်လျဉ်း၍-

- အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအသုံးပြုမည်ဖြစ်ကြောင်း လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – C.S.R) အတွက်အသားတင်အမြတ်ငွေ၏ ၂% အသုံးပြု၍လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။
- အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မှုအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့်ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) အားပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ် ခြင်းဆိုင်ရာလုပ်
-

